ဒေါက်တာ ခါလိဒ် အလ်ဟာစံ ရေးသားထားသော

هَل تُرِيْد بيتًا خَاليًا مِن المشاكِل؟

# ပြဿနာကင်းဝေး အိမ်ကလေးတစ်လုံး တည်ဆောက်ခြင်း



ပြန်ဆိုသူ

မွဖ်သီ မုဟမ္မဒ် အာစွင်းမ်

နဒ်ဝီ၊ မဇွာဟေရီ၊ အဗုလ်ဟာစနီ







## အခြားလက်ဆောင်အစား စာအုပ်လက်ဆောင် ပါး

“ဆရာ... စာအုပ်လေးတစ်အုပ်လက်ဆောင်ပါတယ်။ ဒီအချိန်မှာ အွမ္မသ်ကို ဒါလေးချပြပေးဖို့ သင့်တယ်။ ဆရာဘာသာပြန်ပေးလိုက်ပါ” ဆိုပြီး ချစ်မိတ်ဆွေ မုဖ်သီ အဗ်ဒုလ်ဂနီ (နဒ်ဝီ၊ မဒ္ဒါဟော့ရီ)က စာအုပ်လေးတစ်အုပ် လက်ဆောင်ပေးလာပါတယ်။ စာအုပ်ရဲ့ ခေါင်းစဉ်ကို မြင်မြင်ချင်းပဲ ကျွန်တော် ကြွေသွားခဲ့ပါတယ်။ هل تريد بيتا خاليا من المشاكل؟ “ဒုက္ခကင်းစင်တဲ့ အိမ်တစ်လုံး လိုချင်ပါသလား။” တဲ့...

မဒီနာကမ္ဘာ့အစ္စလာမ့် တက္ကသိုလ်ကနေ ဟဒီးဆ်ပါမောက္ခဘွဲ့ ရရှိထားတဲ့ ဒေါက်တာ ခါလိဒ် အလ်ဟာစ် ရေးသားထားတာပါ။

သူက အိမ်တွင်းရေး ပဋိပက္ခတွေကို နှုတ်ဆက်နိုင်ဖို့၊ အိမ်တွင်းရေး ပြဿနာများကို နှင်ထုတ်နိုင်ဖို့ နည်းလမ်း(၁၀)ခု ပြသထားပါတယ်။ ကုရ်အာန်၊ ဟဒီးဆ်ကို ကိုးကားပြီး သမိုင်းတစ်လျှောက် ထွန်းတောက်ခဲ့တဲ့ ပညာရှင်တို့ရဲ့ အဆိုအမိန့်များနဲ့ စီချယ်ပြီး တင်ပြထားပါတယ်။ လိုက်နာရ အင်မတန် လွယ်ကူလှပါတယ်။ တစ်ထိုင်တည်းနဲ့ ကျွန်ုပ်တို့အိမ်ကို သာယာတဲ့ စံအိမ်တစ်ခုအဖြစ် ပြောင်းလဲပစ်နိုင်မှာပါ။ အင်န်ရှာအော့လ္လာဟ်...

နိဂုံးချုပ်အနေဖြင့် ဤစာအုပ်ကို အမြန်ဆုံး ပြန်ဆိုနိုင်ရန် စွမ်းအား ချီးမြှင့်တော်မူသော အရှင်မြတ်ကို ကျေးဇူးတင်ရှိပါသည်။ ထို့နောက် အလိဖ် တစ်လုံးမှသည် ယနေ့ထိတိုင်သင်ကြားပေးခဲ့သော၊ သင်ကြားပေးနေသော ဆရာအပေါင်းနှင့် နောင်တွင်သင်ကြားပေးဦးမည့် ဆရာအပေါင်းကိုလည်း မှတ်တမ်းတင်ဂုဏ်ပြုအပ်ပါသည်။



ဤစာအုပ်ကို ပထမဆုံး ယူဆောင်လာပြီးနောက် စာအုပ်ဖြစ်လာသည်အထိ လိုအပ်သည်များကို ပံ့ပိုးပေးခဲ့သော ချစ်မိတ်ဆွေ မုဖ်သီအဗ်ဒုလ်ဂနီ(နဒ်ဝီ၊ မဇ္ဇာဟော့ရီ)ကိုလည်း ရင်ထဲ အသဲထဲမှ လှိုက်လှိုက်လှဲလှဲ ကျေးဇူး ဥပကာယ တင်ရှိကြောင်းနှင့် ဤစာအုပ်မှ အကျိုးခံစားကြမည့် စာဖတ်ပရိသတ်အပေါင်းတို့ကိုလည်း ကြိုတင် ကျေးဇူးတင်ရှိအပ်ပါသည်။

မူရင်းကျမ်းရှင်နှင့်ဘာသာပြန်ဆိုသူတို့၏ မိဘနှစ်ပါး၊ ဆရာသမားများ၊ ဆွေမျိုးသားချင်းများ၊ တပည့်တပန်းများ၊ စာဖတ်ပရိသတ်အပေါင်းတို့နှင့် ၎င်းတို့အကောင်းလိုလားပေးလိုသူအပေါင်း သူတော်ကောင်းတို့ကိုလည်း အရှင်မြတ် ကောင်းသောအစားများ ချီးမြှင့်တော်မူပါစေ။ ဤစာအုပ်ဖြင့် အကျိုးဖြစ်ထွန်းစေတော်မူပါ။

**မုဟမ္မဒ် အာစွင်းမ်**

(နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇ္ဇာဟော့ရီ)

ဟစ်ဂျ်ရီ (၁၄၄၆)ခု၊ ဆွဖရ်လ(၂)ရက်

8/8/2024(ကြာသပတေးနေ့)

# هل تريد بيتا خاليا من المشاكل؟

ဒုက္ခကင်းစင်သော အိမ်တစ်လုံး လိုချင်ပါသလား…။

အိမ်တွင်းရေး ပြဿနာများကို နှုတ်ဆက်လိုပါသလား…။

ဤစာအုပ်တွင် အဖြေရှာကြည့်လိုက်ပါ။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အပေါ် တာဝန်တစ်ခု သတ်မှတ်ထားသည်။ လူအများသည် ထိုတာဝန်ကို မေ့လျော့နေကြသည်။ ထိုတာဝန်မှာ "ရှိုင်သွာန်ကို ရန်သူအဖြစ်"သတ်မှတ်ရန်ဖြစ်သည်။

﴿إِنَّ ٱلشَّيۡطَٰنَ لَكُمۡ عَدُوّٞ فَٱتَّخِذُوهُ عَدُوًّاۚ﴾ [فاطر ٦]

စူရဟ် ဖွာသွေ့ရ်၊ အာယသ်တော်(၆)တွင် အရှင်မြတ်က "မုချ ရှိုင်သွာန်သည် အသင်တို့အတွက် ရန်သူဖြစ်သောကြောင့် သူ့ကို ရန်သူအဖြစ် သတ်မှတ်ပါ။"ဟူ၍ မိန့်ကြားထားသည်။

ဝမ်းနည်းဖွယ်ရာကောင်းသော အချက်မှာ လူအများစုသည် ထိုရှိုင်သွာန်အား ချစ်ခင်မြတ်နိုးနေသည်။ မိမိတို့ ညထိုင်ဝိုင်းများတွင်လည်း စကားစမြည် ပြောဖော်ပြောဖက်ပြုနေကြသည်။ လမ်းများတွင်လည်း ရှိုင်သွာန်ကို မိတ်ဆွေဖွဲ့နေကြသည်။ ယုတ်ဆွအဆုံး မိမိတို့အိမ်တံခါးများ၊ အိပ်ခန်းပြူတင်ပေါက်များကိုပင် ရှိုင်သွာန်အတွက် ဖွင့်ပေးထားကြသည်။

လူအချို့မှာ ရှိုင်သွာန်အတွက် နှလုံးသားတံခါးကိုပင် ရက်ရောက်စွာ ဖွင့်ပေးထားသည်။ ရှိုင်သွာန်၏ ထားရာနေစေရာသွားဘဝကို နှစ်ခြိုက်ရင်း

၎င်းသည် အလ္လာဟ်အရှင်မြတ်နှင့် နှိုင်းယှဉ်ကိုးကွယ်ခံဖြစ်သွားသည်။ ဤအဖြစ်ဆိုးမှ အရှင်မြတ်ထံ ခိုလှုံပါ၏။

﴿ أَلَمْ أَعْهَدْ إِلَيْكُمْ يَٰبَنِىٓ ءَادَمَ أَن لَّا تَعْبُدُوا۟ ٱلشَّيْطَٰنَ ۖ إِنَّهُۥ لَكُمْ عَدُوٌّ مُّبِينٌ ﴾ [يس ٦٠]

မြင့်မြတ်တော်မူသော အရှင်မြတ်က "အို..အာဒမ်၏ သားမြေး အပေါင်းတို့၊ ရှိုင်သွာန်ကို မကိုးကွယ်ရန် ငါအသင်တို့ကို မှာတမ်းထားပြီး မဟုတ်ပါလော။ ထိုရှိုင်သွာန်သည် အသင်တို့အတွက် ထင်ရှားသော ရန်သူပင်ဖြစ်သည်။"ဟု စူရဟ် ယာစီးန်၊ အာယသ်(၆၀)တွင် အမိန့်ရှိထားသည်။

## လူအများစု၏ ရင်ဖွင့်သံ

လူအများစုသည် မိမိတို့အိမ်တွင်းရေး အခက်အခဲများ၊ အိမ်ထောင်ရေး သုခဆိတ်သုန်းနေခြင်းများ၊ သားသမီးများနှင့် ၎င်းတို့ကြား အဆင်မပြေမှုများ၊ ပဋိပက္ခများကို ရင်ဖွင့်တိုင်တန်းနေကြသည်။ အချင်းချင်း နားလည်မှုများ၊ ချစ်ခြင်းများ ပျောက်ဆုံးသွားကြောင်း ပြောဆိုနေကြသည်။

ဤအနိဋ္ဌာရုံများကို ဖြေရှင်းနည်းအဘယ်မှာရှိနိုင်သနည်း...?

ယခု ကျွန်ုပ်တို့ ထိုအနိဋ္ဌာရုံများကို ကုစားနိုင်ရန် နည်းလမ်း(၁၀)ခုကို တင်ပြသွားပါမည်။ ထိုနည်းလမ်းများအပေါ် လျှောက်လှမ်းပါက အလ္လာဟ် အရှင်မြတ်သည် အသင့်အား ရှိုင်သွာန်မိစ္ဆာ၏ အန္တရာယ်ရန်စွယ်မှ ကာကွယ်ပေးလိမ့်မည်။ အသင့်အိုးအိမ်၊ စည်းစိမ်နှင့် သားသမီးရတနာ အပေါင်းတို့ကိုလည်း ထိန်းသိမ်းပေးလိမ့်မည်ဖြစ်သည်။

မှတ်ချက်။ ။ကျွန်ုပ်သည် ဤကျမ်းငယ်အား အိုင်န်ဂျိုမို့အဟ် (သောကြာနေ့ တရားတွင်) တင်ပြရန်သော်လည်းကောင်း၊ တက်သုတ်ရိုက် တင်ပြနိုင်ရန်သော်လည်းကောင်း၊ ပြိုင်ပွဲများတွင် အလျင်အမြန် တင်ပြနိုင်ရန်သော်လည်းကောင်း အကျဉ်းရုံး၍သာ တင်ပြထားပါသည်။



## ပထမနည်းလမ်း
## အိမ်ဝင်၊အိမ်ထွက် ဒိုအာများကို ရွတ်ဆိုခြင်း

အိမ်သို့ဝင်သောအခါ အရှင်မြတ်ကို သတိရပါ။ (အိမ်ဝင်ဒိုအာများကို သတိရပါ။) ဤသို့အိမ်ဝင်ဒိုအာများကို ဖတ်ရွတ်ခြင်းဖြင့် ကြီးမားလှစွာသော အကျိုးတရားများရှိနေသည်။ ရှရီအသ်တရားတော်မြတ်ကလည်း ကျွန်ုပ်တို့အားလုံးကို ဤအတိုင်း လမ်းညွှန်ထားသည်။

အဗူမူစာ رَضِىَ اللّٰهُ عَنْهُ အရှ်အရီ သခင်က ကိုယ်တော်မြတ် صَلَّى اللّٰهُ عَلَيْهِ وَسَلَّمَ ၏ မိန့်ကြားချက်အား ဆင့်ပြန်ထားသည်။ “တစ်ဦးတစ်ယောက်သည် အိမ်သို့ ဝင်သောအခါ အောက်ပါဒိုအာကို တောင်းဆိုပါ။

اَللّٰهُمَّ إِنِّيْ أَسْأَلُكَ خَيْرَ الْمَوْلِجِ وَخَيْرَ الْمَخْرَجِ، بِسْمِ اللّٰهِ وَلَجْنَا، وَبِسْمِ اللّٰهِ خَرَجْنَا، وَعَلَى اللّٰهِ رَبِّنَا تَوَكَّلْنَا.

“အိုအရှင်မြတ်… ကျွန်တော်မျိုးသည် အရှင်မြတ်ထံတော်မှ ကောင်းသော ဝင်ရောက်ခြင်း၊ ကောင်းမွန်သော ထွက်ခြင်းကို တောင်းခံအပ်ပါသည်။ အရှင်မြတ်နာမတော်ဖြင့် ကျွန်တော်မျိုးတို့ ဝင်ရောက်ပြီး၊ အရှင်မြတ် နာမ

တော်ဖြင့်သာ ထွက်ပါသည်။ ကျွန်ုပ်တို့အား အဆင့်ဆင့်ဖန်ဆင်းမွေးမြူစောင့် ရှောက်တော်မူသော အရှင်မြတ်အပေါ် အပြည့်အဝယုံပုံအားကိုးပါသည်။ ထို့နောက် အိမ်သူအိမ်သားများအပေါ် စလာမ်ဆိုပါ။

အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ် (၅၀၉၆)



## ဒုတိယနည်းလမ်း
## အိမ်ဝင်သောအခါ မိသားစုအပေါ် စလာမ်မေတ္တာပို့သခြင်း

အိမ်ဝင်သောအခါ မိသားစုအားလုံးကို စလာမ်ပေးရမည်။ အေမာမ် နဝဝီ رَحِمَهُ ٱللَّهُ သခင်က "အိမ်သို့ဝင်သောအခါ ဗိစ်မိလ္လာဟ်ဆိုခြင်း၊ အရှင်မြတ်ကို များမြောင်စွာသတိရတသခြင်း၊ ထို့နောက် စလာမ်မေတ္တာပို့သခြင်းတို့သည် မွတ်စ်သဟဗ်(နှစ်သက်ဖွယ်ကောင်းသော လုပ်ရပ်များဖြစ်သည်။ မြင့်မြတ်တော်မူ၏သောအရှင်မြတ်က -

﴿فَإِذَا دَخَلۡتُم بُيُوتٗا فَسَلِّمُواْ عَلَىٰٓ أَنفُسِكُمۡ تَحِيَّةٗ مِّنۡ عِندِ ٱللَّهِ مُبَٰرَكَةٗ طَيِّبَةٗۚ﴾ [النور ٦١]

"အသင်တို့သည် အိမ်ထဲသို့ ဝင်ကြသောအခါ အရှင်မြတ်ဘက်တော်မှ သန့်စင်မင်္ဂလာဖြစ်သော ခွန်းဆက်စလာမ် မေတ္တာပို့သခြင်းကို ဆောင်ရွက်ကြကုန်။" ဟူ၍ မိန့်ကြားထားသည်။ စူရဟ် နူးရ် ၊ အာယသ် (၆၁)

အနတ်စ် رَضِيَ ٱللَّهُ عَنۡهُ သခင်သည် ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيۡهِ وَسَلَّمَ မိန့်ကြားတော်မူခဲ့သည်ကို ဆင့်ပြန်ထားသည်။ "အို...ချစ်သားငယ်၊ အိမ်ဝင်သောအခါ

မိသားစုဝင်အပေါင်းတို့ကို စလာမ်မေတ္တာပို့ဆက်ခြင်းဖြင့် အသင်နှင့် အိမ်သူအိမ်သား မိသားစုများအပေါ် မင်္ဂလာမိုးများ ရွားသွန်းဖြိုးလိမ့်မည်”။

သိရ်မေ့ဇီကျမ်း ၊ (၂၆၉၈)



## တတိယနည်းလမ်း
## အိမ်တွင် ကျမ်းမြတ်ကုရ်အာန်ကို များစွာ ဖတ်ရွတ်သရစ္ဈယ်ခြင်း

အိမ်တွင် ကျမ်းမြတ်ကုရ်အာန်ကို များစွာ ဖတ်ရွတ်သရစ္ဈယ် ခြင်းသည် တစ်အိမ်လုံးတွင် ဘရ်ကသ်မွေးရနံ့များ သင်းပျံ့စေသည်၊ အိမ်အား သန့်ရှင်း စင်ကြယ်စေပြီး ရှိုင်သွာန်မိစ္ဆာကောင်တို့အား မောင်းထုတ်ပစ်နိုင်စွမ်းရှိသည်။

အဗူမူစာ အရ်အရီ رَضِيَ اللَّهُ عَنْهُ သခင်ကြီးက ကိုယ်တော်မြတ် صَلَّى اللَّهُ عَلَيْهِ وَعَلَى آلِهِ وَسَلَّمَ ၏ မိန့်ကြားချက်ကို ဆင့်ပြန်ထားသည်။ “ကျမ်းမြတ် ကုရ်အာန်ကို ဖတ်ရွတ်သော မွတ်စ်လင်မ်သည် တော်ဝင် ကဗ္ဗလာသီးနှင့် တူသည်။ တောင်ဝင်ကဗ္ဗလာသီးသည် လှပကောင်းမွန်ပြီး အရသာရှိသည်၊ မွှေးကြိုင်သည် ချိုမြသည်။ ကျမ်းမြတ်ကုရ်အာန်မဖတ်သော မွတ်စ်လင်မ်သည် စွံပလွန်သီးနှင့်ပမာတူသည်။ စွံပလွန်သီးသည် အရသာရှိသည်။ မွှေးကြိုင်သည့် ရနံ့ကင်းသည်။ ကျမ်းမြတ်ကုရ်အာန်မဖတ်သော မုနာဖိက် သာသနာ့အရေခြုံ သည် ကျီးအာသီး ပမာဖြစ်သည်။ ကျီးအာသီးသည် ခါးသည်၊ အရသာလည်း မရှိပါ။ ကုရ်အာန်ဖတ်သော မုနာဖိက်သည် မွှေးသော ပန်းကဲ့သို့ဖြစ်သည်။ ပန်းသည် မွှေးကြိုင်သော်လည်း ခါးသော သဘာဝရှိလေသည်။”

ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၅၄၂၇)၊ မွတ်စ်လင်မ်ကျမ်း (၇၉၇)

**အိမ်တွင် ကျမ်းမြတ်ကုရ်အာန်ကို ရှိ့ကျိုးစွာဖြင့် ဖတ်ရွတ်ခြင်းသည် ကောင်းကင်တမန်များနီးကပ်လာစေရန် အကြောင်းခံဖြစ်သည်။**

အိုစိုင်းဒ်ဗင်န် ဟိုဒွိုင်းရ် رَضِيَ ٱللَّهُ عَنْهُ သခင်သည် တစ်ညတွင် စူရဟ် ဗကရဟ်ကို စနစ်တကျ ဖတ်ရွတ်နေသည်။ မြင်းသည် ချည်နှောင်ထားလျက် သားရှိနေရာ ရုတ်တရက် ၎င်း၏မြင်းသည် မြူးလာသည်။ သခင်က ကျမ်းမြတ် ကုရ်အာန်မဖတ်ဘဲ တိတ်သွားရာ မြင်းသည်လည်း ရပ်သွားသည်။ ကျမ်းမြတ် ကုရ်အာန် ပြန်လည်ဖတ်ရွတ်လေတိုင်း မြင်းသည်လည်း မြူးထူးလာသည်။ သခင်အနေဖြင့် ရပ်တံ့လေတိုင်း မြင်းသည်လည်း တိတ်ဆိတ်သွားသည်။ သခင်၏ သားငယ် ယဟ်ယာသည်မြင်းအနားတွင် ရှိနေရာ သားငယ်ကို ထိသွားမည်စိုးရိမ်လာရသည်။ ထိုအခါ အိုစိုက်ဒ်သခင်သည် မိမိ၏ သားငယ် (ယဟ်ယာ)အား ၎င်းနေရာမှ ဖယ်ရှားလိုက်ပြီး မိုးကောင်းကင်သို့ မော့ကြည့် လိုက်မိရာ မိုးကောင်းကင်ယံအား မမြင်တွေ့ခဲ့ရပါ။ နံနက်မိုးလင်းသောအခါ သခင်က ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ အား ဖြစ်ကြောင်းကုန်စင် တင်ပြ လိုက်ရာ ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ က "အို...အိဗ်နေ့ဟိုဒွိုင်းရ် အသင် ဖတ်နေရမှာ။ အို...အိဗ်နေ့ ဟိုဒွိုင်းရ် အသင်ဖတ်နေရမှာ"ဟု မိန့်ကြားခဲ့သည်။ ကျွန်ုပ်ကလည်း မြင်းအနီး ထိုင်နေသော သားငယ်ယဟ်ယာ မြင်းနင်းခံရမည် စိုးသဖြင့် ရပ်တံ့လိုက်ပြီး ယဟ်ယာဘက်သို့ အာရုံစိုက်ခဲ့ကြောင်း ထို့နောက် မိုးကောင်းကင်သို့ တဖန်ပြန်ကြည့်လိုက်ရာ မီးအိမ်များဖြင့် လင်းလက်နေသော မိုးတိမ်တိုက်များကိုသာ တွေ့လိုက်ရကြောင်းနှင့် အပြင်သို့ ထွက်လာပြီး ထပ်မံ ကြည့်ရှုရာ မမြင်တွေ့ရတော့ကြောင်း ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ အား လျှောက်တင်ခဲ့သည်။ ထို့အခါ ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ က "ထိုအရာ မည်သည့်အရာ ဖြစ်သည်ကို အသင်သိပါသလား။ဟု မေးမြန်းတော်မူရာ ကျွန်ုပ်က မသိပါဟု လျှောက်ထားလိုက်သည်။ ကိုယ်တော်မြတ် صَلَّى ٱللَّهُ عَلَيْهِ وَسَلَّمَ က

“ထိုအရာများမှာ ကောင်းကင်တမန်တော်များ ဖြစ်ကြောင်း၊ အသင်၏ ကုရ်အာန်ဖတ်ရွတ်သံကြောင့် ဤသို့ နီးကပ်လာခြင်းဖြစ်ကြောင်း မိန့်ဆိုပြီး အသင်သာ မိုးလင်းချိန်ထိ ဆက်လက်ဖတ်ရွတ်နေမည် ဆိုပါက ထိုပုံရိပ်များကို အခြားသူများလည်း ရှင်းရှင်းလင်းလင်း ရှုစားနိုင်မည်ဖြစ်သည်” ဟု မိန့်ကြားခဲ့သည်။

ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ် (၅၀၁၈)

ဤအကြောင်းတရားများကြောင့် မွတ်စ်လင်မ်တိုင်းသည် မိမိဖန်ဆင်းရှင်၏ မြတ်ကုရ်အာန်အပေါ် အာရုံအပြည့်ထားသင့်သည်။ မိမိ သား သမီးများနှင့် မိသားစုများကိုလည်း ကျမ်းမြတ်ကုရ်အာန် ဖတ်ရွတ်ရန်၊ ကျမ်းမြတ်ကုရ်အာန်၏ အာယသ်တော်များ ကျက်မှတ်သည့် အကျင့်များ ပြုလုပ်ပေးရန် အရေးကြီးသည်။



## စတုတ္ထနည်းလမ်း
## အိမ်တွင် စူရဟ် ဗကရဟ်ဖတ်ခြင်း

အိမ်တွင် ဒုက္ခသုက္ခများ ပေါ်များလာသည်ဟု ယူဆရသောအခါ၊ (ပြဿနာဖြစ်သည့်)အသံ များကျယ်လောင်နေသောအခါ၊ အိမ်ထဲတွင် အမိန့် ဖီဆန်မှု များပြားလာသောအခါ ထိုအိမ်ထဲတွင် ရှိုင်သွာန်မိစ္ဆာနေရာယူထားပြီး ဖြစ်ကြောင်း သိရှိထားရမည်။ သူ့ကို မောင်းထုတ်ရန်၊ အဝေးနှင်ထုတ်ရန် ကြိုးစားအားထုတ်ရမည်။

### ကောင်းပါပြီ... မည်သို့ နှင်ထုတ်မည်နည်း။

အဗူဟိုရိုင်ရဟ် رَضِيَ اللَّهُ عَنْهَا သခင်သည် ကိုယ်တော်မြတ် صَلَّى اللَّهُ عَلَيْهِ وَسَلَّمَ ၏ မိန့်ကြားချက်ကို ဆင့်ပြန်ခဲ့သည်။ "အရာရာတိုင်းတွင် ထူးခြားချက်ရှိသည်။ ကျမ်းမြတ်ကုရ်အာန်၏ ထူးခြားချက်မှာ စူရဟ်ဗကရဟ်ပင်ဖြစ်သည်။ ထိုစူရဟ် တော်ထဲတွင် ထိပ်သီးအာယသ်တော်တစ်ပိုဒ်ပါဝင်သည်။ ယင်းကို အာယသုလ် ကုရ်စီ ဟု ခေါ်သည်။"

သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ်(၂၈၇၈)

အဗူဟိုရိုင်ရာ رَضِيَ اللَّهُ عَنْهُ သခင်ဆင့်ပြန်သည့် အခြားဟဒီးဆ်တော် တစ်ရပ်တွင် "အသင်တို့သည် မိမိတို့အိမ်များအား ကဗရ်သင်္ချိုင်းများအဖြစ် မပြုလုပ်လေနှင့်၊ စူရဟ်ဗကရဟ်ဖတ်သော အိမ်မှ ရှိုင်သွာန်သည် ထွက်သွား လေသည်။"ဟု ကိုယ်တော်မြတ် က မိန့်ကြားထားသည်။

မွတ်စ်လင်မ်ကျမ်း၊ ဟဒီးဆ်အမှတ် (၇၈၀)

အထူးသဖြင့် စူရဟ်ဗကရဟ်ထဲတွင် အာယသုလ်ကုရ်စီ ပါဝင်နေသည်။ ကိုယ်တော်မြတ်ﷺ၏ မိန့်ကြားချက်အရ အာယသုလ်ကုရ်စီသည် ကျမ်းမြတ်ကုရ်အာန်ထဲရှိ အာယသ်တော်များအနက် အမြတ်ဆုံး အာယသ်ဖြစ်သည်။



## ပဉ္စမနည်းလမ်း
## သီချင်း၊ တီးလုံး ကင်းစင် အိမ်တစ်ခွင်

အိမ်တွင် ရှိုင်သွာန်မိစ္ဆာကောင်၏ အသံကင်းစင်နေရမည်။ မြင့်မြတ်တော်မူသော အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်တွင်

﴿وَٱسۡتَفۡزِزۡ مَنِ ٱسۡتَطَعۡتَ مِنۡهُم بِصَوۡتِكَ﴾ [الإسراء ٦٤]

"ထို့ပြင် (အိဗ်လိစ္စ်) အသင်သည် ၎င်းတို့အနက် မိမိလက်လှမ်းမီသောသူတို့အား မိမိအသံဖြင့် စိတ်ထကြွစေလော့။ ခြိမ်းခြောက်လှည့်ဖြားလော့။" ဟု မိန့်ကြားထားသည်။ **စူရဟ် ဗနီအစ္စရာအီလ်၊ အာယသ်(၆၄)**

အေမာမ်မုဂျာဟိဒ် رَحِمَهُ ٱللَّهُ က "ရှိုင်သွာန်၏ အသံဆိုသည်မှာ သီချင်း" ကို ဆိုလိုကြောင်း မိန့်ကြားခဲ့သည်။

ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ် (၅၅၉၀)တွင် ကိုယ်တော်မြတ်ﷺ က "ငါ၏အွမ္မသ်သားများအနက် လူတစ်စုသည် ဇေနာ(အိပ်ယာကျူးခြင်း)၊

ပိုးထည်ဝတ်ဆင်ခြင်း၊ အရက် (မူးရစ်ဆေးဝါး)သုံးစွဲခြင်း၊ သီချင်း(တီးလုံး)များ ကို ပိုင်သည့်အရာများအဖြစ် ပြောဆိုလာကြမည်။"

အိဗ်နေ့ မတ်စ်အူးဒ် ﵁ သခင်ကြီးက "သီချင်း၊ တီးလုံးများသည် သာသနာ့အယောင်ဆောင်ခြင်းမျိုးစေ့ကို မိုးရေစက်များက ကောက်ပဲ သီးနှံများ ပေါက်ရောက်စေသကဲ့သို့ ပေါက်ရောက်စေသည်။"ဟု မိန့်ကြားခဲ့သည်။

အေမာမ်အဗူဟာနီဖွာ ﵀ သခင်က "သီချင်းနားထောင်ခြင်းသည် သာသနာ့ဘောင်ကျော်သောလုပ်ရပ်ဖြစ်သည်"ဟု မိန့်ကြားခဲ့သည်။

အေမာမ်မာလိက် ﵀ သခင်ကြီးအား သီချင်းနှင့် ပတ်သက်ပြီး မေးမြန်းသောအခါ "သာသနာပျက် အမိုက်သားများသာ သီချင်းနှင့် ပတ်သက်ကြသည်။"ဟု ဖြေကြားခဲ့သည်။

ဤတင်ပြချက်များအရ သီချင်း၊ တီးလုံးများသည် မပြုပိုင်ကြောင်း၊ ထိုအရာများမှာ ရှိုင်သွာန်မိစ္ဆာကောင်၏ အသံဖြစ်ကြောင်း၊ အိမ်တစ်လုံးတွင် ရှိုင်သွာန်က အသံပြုလိုက်ပါက ၎င်း၏ အုပ်စုများ ထိုအိမ်တွင်း စုရုံးသွားကြပြီး အိမ်တွင်း အဖျက်အမှောက်လုပ်ငန်းများကို ပြုလုပ်ကြကြောင်း၊ အိမ်တွင်း ပြဿနာများ၊ အမုန်းတရားများနှင့်အချင်းချင်း သွေးကွဲလာစေရန် ဖန်တီးကြကြောင်း သိရှိရသည်။

အိမ်တွင် သီချင်းများ၊ တီးလုံးများရှိနေပါက ထိုအိမ်တွင် ရှိုင်သွာန်များ မင်းမူ နေရာယူကြသည်။ ထိုအိမ်ထဲတွင် အိမ်တွင်းရေးပြဿနာများ ပေါ်များလာတော့သည်။



## ✍ဆင္ခြမနည်းလမ်း

## အိမ်တွင်း ကာဖိရ်မုရှ်ရိက်တို့၏ သာသနာရေးအထိမ်းအမှတ်များ ကင်းစင်စေခြင်း

ကာဖိရ်၊ မုရှ်ရိက်တို့၏ သာသနာရေးအထိမ်းအမှတ်များဆိုသည်မှာ လက်ဝါးကပ်တိုင်၊ (ရုပ်တု၊ ဆင်းတု စသည်တို့ကို ဆိုလိုသည်။)

ကျွန်ုပ်တို့သည် ယဟူဒီ၊ နဆ္ဖရာနီ(ကာဖိရ်၊မုရှ်ရိက်)တို့နှင့် တုပခြင်းမှ တားမြစ်ခံထားရသည်။ ဝမ်းနည်းဖွယ်ရာတစ်ခုမှာ - ယနေ့ခေတ် မွတ်စ်လင်မ် တို့၏ အိမ်တွင်း ၎င်းတို့၏ ဘာသာရေးအမှတ်သညာများ နေရာယူထားပြီး ဖြစ်သည်။ အိမ်နံရံ၊ ခန်းစီးလိုက်ကာ၊ တံတိုင်းပေါ်ထွင်းထားသော အလှအပ များ အသွင် တစ်ခုခုအပေါ် တွေ့ရှိနေရသည်။

အိမ်အတွင်း အေးချမ်းသာယာသော ဘဝတစ်ခုတည်ဆောက်နိုင်ရန် ကျွန်ုပ်တို့နေထိုင်သည့် အိမ်များအား ထိုအထိမ်းအမှတ်များမှ သန့်စင်လာ စေရန် ဆောင်ရွက်ချိန်တန်ပြီ မဟုတ်ပါလော။



## ✍သတ္တမနည်းလမ်း
## သက်ရှိရုပ်ပုံကင်းစင် အိမ်တစ်ခွင်

ကျွန်ုပ်တို့သည် မိမိတို့အိမ်များကို သက်ရှိရုပ်ပုံများ၊ ဆင်းတုများမှ ကင်းဝေးစေရန်ဆောင်ရွက်ရမည်။ ဤသည် မွတ်စ်လင်မ်တိုင်းအပေါ် အရေးကြီးသော တာဝန်တစ်ရပ်လည်းဖြစ်သည်။

ရဟ်မသ်ကရဏာ ဆောင်လာသော ကောင်းကင်တမန်တော်များသည် သက်ရှိ ရုပ်ပုံကားချပ်များရှိသည့် အိမ်အတွင်း ဝင်ရောက်လေ့မရှိပါ။ ရဟ်မသ် ဆောင်ယူလာသော ကောင်းကင်တမန်တော်များ မရှိတော့ပါက ထိုအိမ်တွင် ရှိုင်သွာန်များသာ နေထိုင်ကြတော့သည်။

ကိုယ်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို အဗူဟိုရိုင်ရဟ် رَضِيَ ٱللَّٰهُ عَنْهُ က ဆင့်ပြန်ထားသည်မှာ “ရဟ်မသ်ကရဏာဆောင်ယူသယ်လာသော ကောင်းကင်တမန်းများသည် သက်ရှိရုပ်ပုံကားချပ်များ၊ ရုပ်တုဆင်းတုများ ရှိသော အိမ်းတွင် မဝင်ရောက်ပါ။” (ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၃၂၂၇)



## 🖎အဌမနည်းလမ်း
## အိမ်တွင်း နဖိလ်များများ ဝတ်ပြုခြင်း

“အသင်တို့သည် ကိုယ့်အိမ်အတွင်း (နဖိလ်)နမားဇ်များ ဝတ်ပြုကြပါ။ အိမ်ကို ကဗရ်(နမားဇ်ကင်းမဲ့ဗုံ)မပြုလုပ်လေနှဲ့။”ဟူသော ကိုယ်တော်မြတ် ﷺ ၏ မိန့်ကြားချက်ကို အိဗ်နေ့ အိုမရ် رَضِيَ اللَّهُ عَنْهُ သခင်က ဆင့်ပြန်ထားသည်။

(ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၄၃၂)၊ မွတ်စ်လင်မ်ကျမ်း၊ ဟဒီးဆ်အမှတ်(၇၇၇)

အိမ်တွင် နဖိလ်နမားဇ်များဝတ်ပြုခြင်းဖြင့် ပြစားခြင်းလည်း ကင်းဝေးသွားသည်။ အိမ်အတွင်း ဘရ်ကသ်မင်္ဂလာများလည်း တိုးပွားသွားမည်ဖြစ်သည်။ ထိုအိမ်အတွင်းကရုဏာများ၊ ကောင်းကင်တမန်တော်များ သက်ဆင်းလာမည်ဖြစ်သည်။ ထို့ကြောင့် ရှိုင်သွာန်များ ထွက်ပြေးသွားရသည်။

တမန်တော်မြတ် ﷺ က “အို..လူတို့၊ အသင်တို့သည် မိမိတို့အိမ်များတွင် နမားဇ်ဝတ်ပြုကြကုန်၊ ဖရ်ဇ်နမားဇ်များမှအပ အမျိုးသားများ အိမ်အတွင်းဝတ်ပြုသော နမားဇ်များသည် အမြတ်ဆုံးဖြစ်သည်။”

(ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ် (၇၃၁)



## နဝမနည်းလမ်း

## အိမ်တွင်း သာယာချိုအေးသောစကားဆိုခြင်း၊ အပြုံးပန်းများ ဝေဆာစေခြင်း

ရှိုင်သွာန်သည် မွတ်စ်လင်မ်လူ့အဖွဲ့စည်း၊ မွတ်စ်လင်မ်မိသားစုများကို ဖျက်စီးရန် သွေးကွဲစေရန် ပရိယာယ်ဆင်နေသည်။ စီမံနေသည်။

"အိဗ်လိစ်သည် ရေပေါ်တွင် မိမိအတွက် ပလ္လင်တည်ထားသည်။ ထို့နောက် မိမိလက်ပါးစေများကို လူသားတို့အား နှောင့်ယှက်ဖျက်ဆီးရန် စေလွှတ်သည်။ ရှိုင်သွာန်တို့အနက် ပြဿနာအဖန်တီးနိုင်ဆုံးသူသည် အိဗ်လိစ် (ရှိုင်သွာန်ခေါင်းဆောင်)နှင့် အနီးဆုံးတွင် နေရာရသည်။

"ကျွန်တော် လူသားတို့အား ဤသို့ဖျက်ဆီးခဲ့ပြီ"ဟု ရှိုင်သွာန် တစ်ဦးက လာရောက်ပြောဆိုသောအခါ အိဗ်လိစ်က "မင်းဘာမှ မလုပ်ရသေးပါ"ဟု သာ ပြောကြားသည်။

ကိုယ်တော်မြတ် صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ က လင်မယားကြား ပြဿနာဖန်တီးခဲ့သော ရှိုင်သွာန်အကြောင်းကို ပြောပြသည်။ ဤအခြေအနေတွင် ရှိုင်သွာန် တစ်ဦး ရောက်လာပြီး **"ကျွန်ုပ်သည် လင်မယားနှစ်ယောက်ကြား ပြဿနာများ ဖန်တီးပေးနိုင်ခဲ့သည်။ အဆုံးတွင် ၎င်းတို့နှစ်ဦးကွာရှင်းပြတ်စဲလိုက်ပါပြီ"**ဟု လာရောက်ပြောကြားရာ အိဗ်လိစ်က "မင်းသာ သတ္တိခဲ"ဖြစ်သည်ဟု ဆိုကာ ထိုရှိုင်သွာန်အား မိမိနှင့်အနီးဆုံးနေရာတွင် နေရာပေးလိုက်သည်။"

(မွတ်စ်လင်မ်ကျမ်း၊ ဟဒီးဆ်အမှတ်( ၂၈၁၃)

ထို့ကြောင့် ခင်ပွန်းသည် မိမိဇနီးသည်အား ကောင်းမွန်စွာ ဆက်ဆံရမည်။ အလှပဆုံး အချိုမြိန်ဆုံး စကားလုံးများကို ဇနီးမောင်နှံကြား ရွေးချယ်သုံးနှုံးရမည်။

မြင့်မြတ်တော်မူသော အရှင်မြတ်က စူရဟ် ဗနီအစ္စရာအီးလ်၊ အာယသ်(၅၃)တွင်-

﴿وَقُل لِّعِبَادِى يَقُولُواْ ٱلَّتِى هِىَ أَحۡسَنُۚ إِنَّ ٱلشَّيۡطَٰنَ يَنزَغُ بَيۡنَهُمۡۚ﴾ [الإسراء ٥٣]

ငင်းပြင် (အို-နဗီတမန်တော်)ငါအရှင်မြတ်၏ (မုအ်မင်န်) ကျွန်များ အား အကောင်းဆုံးသော စကားကိုသာ ပြောဆိုကြရန် အသင်ပြောကြား ပါလေ။ ကေန်အမှန် ရှိုင်သွာန်မိစ္ဆာကောင်သည် ၎င်းတို့၏ စပ်ကြားတွင် နှောင့်ယှက်ဖျက်ဆီးလေ့ရှိပေသည်။” ဟု မိန့်ကြားထားသည်။

ကိုယ်တော်မြတ် ﷺ က “မိမိဇနီး(မိသားစုဝင်များ)အတွက် အကောင်းဆုံးသောသူသည် အသင်တို့အနက် အကောင်းဆုံးသောသူ ဖြစ်သည်။” ဟုမိန့်ကြားခဲ့သည်။ သိရ်မေ့ဇီကျမ်း၊ ဟဒီးဆ်အမှတ် (၃၈၅၉)

ဤနည်းအတိုင်းပင် ဇနီးသည်ကလည်း ခင်ပွန်းသည်အတွက် အလှပဆုံး စကားများကို ရွေးချယ်သင့်သည်။ အကောင်းဆုံး အဝတ်အစား များကို ဆင်မြန်းရမည်။ ခင်ပွန်းသည် ပျော်ရွှင်စေရန်၊ တခြားသူဘက် အာရုံ မရောက်စေရန်အတွက် (အလှပဆုံးကိုယ်ကျင့်တရားများဖြင့် ဆင်မြန်းပြီး) အသင်းပျံ့ဆုံး ရနံ့များကို ဆွတ်ဖြန်းထားရမည်။

ကိုယ်တော်မြတ် ﷺ က “အမျိုးသားအတွက် အကောင်းဆုံး ရတနာသိုက်ကို ပြောပြရမည်လော။ဟု မေးမြန်းပြီးနောက် “အသွင်တူသော အိမ်သူ၊ မွန်ရည်သော ကြင်သူ၊ သူ့မျက်နှာမြင် ပျော်ရွှင်စေပြီး၊ ခင်ပွန်း အမိန့်သံ နာခံသူမ၊ ခင်ပွန်းမရှိချိန် အိမ်နှင့်ကာအိန္ဒြေတို့ကို ထိန်းသိမ်းသူမ ဖြစ်သည်”ဟု မိန့်ကြားခဲ့သည်။ အဗူဒါဝူးဒ်ကျမ်း၊ ဟဒီးဆ်အမှတ်(၁၆၆၄)



## ဒဿသမနည်းလမ်း

## ကလေးသူငယ်များကို ရှိုင်သွာန်မိစ္ဆာများ၊ ပိုးမွှားတိရိစ္ဆာန်များ၊ နဇရ်(မကောင်းသောအရှု မငြိတွယ်စေရန်) ထိန်းသိမ်းကာကွယ်ပေးခြင်း

အသင်သည် အိမ်တွင်းရှိ ကလေးသူငယ်များကို နံနက်ညနေ စုရုံးစေပြီး ၎င်းတို့အပေါ် ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ်(၃၃၇၁)လာ အောက်ပါ ဒိုအာဖြင့် မန်းမှုတ်ပေးရမည်။

أَعُوْذُ بِكَلِمَاتِ اللهِ التَّامَّةِ، مِنْ كُلِّ شَيْطَانٍ وَهَامَّةٍ، وَمِنْ كُلِّ عَيْنٍ لَامَّةٍ.

အိဗ်နေ့ အဗ္ဗါးစ် သခင်ပြောကြားသည်။ ကိုယ်တော်မြတ် ﷺ သည် ဟစံ رَضِيَ اللَّهُ عَنْهُ နှင့် ဟိုစိုင်းန် رَضِيَ اللَّهُ عَنْهُ တို့အား မန်းမှုတ်ပေးတော်မူခဲ့သည်။ ထို့နောက် အသင်တို့နှစ်ဦး၏ ဖခင်အိဗ်ရာဟီးမ် عَلَيْهِ الصَّلَاةُ وَالسَّلَامُ သခင်က အစ္စမာအီးလ် عَلَيْهِ الصَّلَاةُ وَالسَّلَامُ နှင့် အစ္စဟားက် عَلَيْهِ الصَّلَاةُ وَالسَّلَامُ သားတော် နှစ်ပါး တို့အား အထက်ပါဒိုအာဖြင့် မန်းမှုတ်ခဲ့ကြောင်း မိန့်ကြားခဲ့သည်။

## နိဂုံးချုပ်

ဤသည် လမ်းညွှန်ချက်ပေါင်းချုပ်ဖြစ်သည်။ မွတ်စ်လင်မ် ညီနောင်များ လိုက်နာကြရန်၊ မိမိတို့အရှင်မြတ်နှင့် နီးကပ်မှုရယူရန် တင်ပြခြင်းဖြစ်သည်။ သို့မှသာ မွတ်စ်လင်မ်တိုင်းသည် နဖူးစာထူးပြီး ငြိမ်းချမ်းသာယာသော ဘဝတစ်ခုကို ပိုင်ဆိုင်နိုင်ကြမည်ဖြစ်သည်။

များစွာသော သူတော်စင်များသည် ဤနည်းများကို စမ်းသပ်ခဲ့ကြသည်။ မိမိတို့အိမ်များကို မကောင်းဆိုးဝါးများ၊ အကုသိုလ်များမှ ကင်းစင်စွာ

ထားနိုင်ခဲ့ကြပြီး အိမ်တွင်းသုခများကို ရရှိပိုင်ဆိုင်ခဲ့ကြသည်။ သားသမီး ရတနာတို့ကြား ချစ်ခြင်းများ၊ ဇနီးမောင်နှံတို့ကြား နားလည်ခြင်းများကို တွေ့ရှိခဲ့ကြရသည်။

အရှင်မြတ်မိမိအသနားတော်မြတ်၊ ကျေးဇူးတော်မြတ်ဖြင့် ကျွန်ုပ်တို့ အိမ်များကို အထက်ပါ အကုသိုလ်များမှ သန့်ပြန့်စင်ကြယ်စေတော်မူပါ။ ကျွန်ုပ်တို့အားလုံးအား လောကီ ၊ လောကုတ္တရာ နှစ်ဌာနတွင် နဖူးစာကောင်း သော ဘဝများ ချီးမြှင့်တော်မူပါ။

ကျွန်ုပ်တို့၏ ချစ်နပီနှင့် အိမ်တော်သူအိမ်တော်သားများ၊ အဆွဲဟားဗ် တော်များအပေါ် အရှင့်ကရုဏာမိုးများ ရွာသွန်းဖြိုးပေးသနားတော်မူပါ။

မူရင်းကျမ်းရှင် ဒေါက်တာ ခါလိဒ် အလ်ဟာစံ

ဟာဒီးဆ်ပါမောက္ခ ၊ကမ္ဘာလုံးဆိုင်ရာ အစ္စလာမ့် တက္ကသိုလ်

မဒီနာရွှေမြို့တော်

ဘာသာပြန်ဆိုသူ

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဇှလ်ဟာစနီ၊မဇ္ဇာဟေ့ရီ)

مَثَل البيتِ الذي يُذكَر اللّٰه فيه والبيتِ الذي لا يُذكر الله فيه مثلُ الحيِّ والميِّت.

(أخرجه مسلم، ح: ٧٧٩).

